# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ပုံစံ (မနသ-၂)
စာအမှတ် ...
ရက်စွဲ ၁၄.၂.၂၀၁၄
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ခွင့်ပြုမိန့် အမှတ်၊ မနသ- ၉၆၁ /၂၀၁၄ ၂၀၁၄ ခုနှစ်၊ ဖေဖော်ဝါရီ လ ၁၄ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်-

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးအောင်တင်စိုး

(ခ) **အဘ အမည်** ဦးစိုးလွင်(ခ)တန်ကင်ချန်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၂/လမတ(နိုင်) ၀၀၀၄၀၇

(ဃ) **နေရပ်လိပ်စာ** အခန်းအမှတ်-၂၊ အမှတ်-၉၊ ၁၄လမ်း၊ ၆ရပ်ကွက်၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(င) **ဖွဲ့စည်းထားသည့်သို့မဟုတ်ဖွဲ့စည်းမည့်အဖွဲ့အစည်း** Family United Power Co., Ltd. (မိသားစု စုစည်းစွမ်းအား ကုမ္ပဏီလီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား** ပုဗ္ဗသီရိ ရှော့ပင်းမော တည်ဆောက်၍ ဆိုင်ခန်းများ ငှားရမ်းခြင်းလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** နေပြည်တော်၊ ပုဗ္ဗသီရိမြို့နယ်၊ မင်္ဂလာဒီပရပ်ကွက်၊ မြေတိုင်းရပ်ကွက် အမှတ် ၁၂/ ချင်းတွင်း အနောက်ရပ်၊ ဦးပိုင်မြေကွက်အမှတ် PH-02 ရှိ မြေ(၈.၃၂)ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ၃၇၀၀.၀၀သန်း (အမေရိကန်ဒေါ်လာ ၂.၀၄ သန်း အပါအဝင် ကျပ်သုံးထောင့်ခုနစ်ရာသန်းတိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၁၇ /၂၀၁၄ (မနသ)

၂၀၁၄ ခုနှစ် ဖေဖော်ဝါရီ လ ၁၄ ရက်

၁။ Family United Power Co., Ltd. (မိသားစု စုစည်းစွမ်းအား ကုမ္ပဏီလီမိတက်)သည် နေပြည်တော် စည်ပင်သာယာရေးကော်မတီထံမှ အုပ်ချုပ်မှုဒါရိုက်တာ ဦးအောင်တင်စိုးအမည်ဖြင့် အသုံးပြုခွင့်ရရှိထားသော နေပြည်တော်၊ ပုဗ္ဗသီရိမြို့နယ်၊ မင်္ဂလာဒီပရပ်ကွက်၊ မြေတိုင်းရပ်ကွက် အမှတ်၁၂/ ချင်းတွင်းအနောက်ရပ် ဦးပိုင်မြေကွက်အမှတ်PH-02ရှိ မြေ(၈.၃၂)ဧကတွင် ပုဗ္ဗသီရိ ရွှေပင်းမောတည်ဆောက်၍ ဆိုင်ခန်းများငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၈-၁-၂၀၁၄)နေ့တွင် ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁/၂၀၁၄)အစည်းအဝေး၌ တင်ပြခဲ့ရာ "အဆိုပြု လုပ်ငန်းအတွက် ပြည်ပမှ ဆောက်လုပ်ရေး လုပ်ငန်းသုံးယာဉ်၊ ယန္တရားများကို အခွန် အကောက်ပေးဆောင်တင်သွင်းရန် "ဟု ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်နှင့်အညီ ကုမ္ပဏီမှ ပြည်ပမှ တင်သွင်းမည့် လုပ်ငန်းသုံး ယာဉ်/ယန္တရား များအနက် Escalator ၊ Elevator နှင့် Brand New Forklift တို့အား အခွန်ကင်းလွတ်ခွင့်ဖြင့် တင်သွင်းပြီး ကျန်ယန္တရားများကို အခွန်အကောက် ပေးဆောင်၍ တင်သွင်းမည် ဖြစ်ပါကြောင်း ပြင်ဆင်တင်ပြလာပါသဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း (၇)၊ ပုဒ်မ ၁၂ (ခ)အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျှက် Family United Power Co.,Ltd. (မိသားစု စုစည်းစွမ်းအား ကုမ္ပဏီလီမိတက်)အား ပုဗ္ဗသီရိ ရွှေပင်းမောတည်ဆောက်၍ ဆိုင်ခန်းများ ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၉၆၁/၂၀၁၄ ကို ထုတ်ပေးလိုက်သည်။

၂။ Family United Power Co., Ltd. (မိသားစု စုစည်းစွမ်းအား ကုမ္ပဏီလီမိတက်)အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၁၁) အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ဝန်ဆောင်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်း အမှန်

တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် ခံစားပြီး တစ်ဆက်တည်း နှစ်နှစ် အတွင်း အမှန်တကယ်ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန် တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်းစတင်တည်ဆောက်မှု ကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန် ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်း အခွန်အကောက်များဖြစ်စေ၊ နှစ်မျိုးလုံးကိုဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်တို့ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဇ)အရ ဝင်ငွေခွန် စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြား မတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်က သတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုး လျှော့တွက်နှုန်းများ အတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုး လျှော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့် နှင့်စပ်လျဉ်း၍ ယင်းတန်ဖိုးလျှော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက် ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှု ပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်း ကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာ များ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန် ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်း အခွန်အကောက်များဖြစ်စေ၊ နှစ်မျိုးလုံးကိုဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာ ခွင့်တို့ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ)အရ ပြည်ပမှ ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန် ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်

အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ် ပြုထားသည့် စစ်ဆေးရေး ကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ Family United Power Co., Ltd. (မိသားစု စုစည်းစွမ်းအား ကုမ္ပဏီလီမိတက်) သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ဝန်ဆောင်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ Family United Power Co., Ltd. (မိသားစု စုစည်းစွမ်းအား ကုမ္ပဏီလီမိတက်) သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၇။ Family United Power Co., Ltd. (မိသားစု စုစည်းစွမ်းအား ကုမ္ပဏီလီမိတက်)၏ မတည်ငွေရင်းထည့်ဝင်မှုတွင် ဦးအောင်တင်စိုး၏အမည်ပေါက်မြေကို အစုရှယ်ယာအဖြစ် ထည့်ဝင် မည်ဖြစ်ရာ ကုမ္ပဏီ၏အစုရှယ်ယာ ထည့်ဝင်မှု ကိစ္စများ ဆောင်ရွက်ပြီးစီးသည့် အချိန်တွင် အဆိုပါ မြေကွက်အား Family United Power Co., Ltd. (မိသားစုစုစည်းစွမ်းအား ကုမ္ပဏီ လီမိတက်)၏ အမည်ပေါက် ဖြစ်စေရေးအတွက် နေပြည်တော်ကောင်စီ၊ မြေစာရင်းဦးစီးဌာနသို့ လျှောက်ထား ဆောင်ရွက်ရမည်။ ဂရန်ရရှိပါက ဂရန်မိတ္တူ (၅)စောင်ကို ဤကော်မရှင်သို့ **မပျက်မကွက်** ပေးပို့ တင်ပြရမည်။

၈။ Family United Power Co., Ltd. (မိသားစု စုစည်းစွမ်းအား ကုမ္ပဏီလီမိတက်)သည် လုပ်ငန်းဆောင်ရွက်ရာတွင် မြို့ပြစီမံကိန်းနှင့် ကိုက်ညီစေရေးအတွက် လည်းကောင်း၊ သက်ဆိုင်ရာ ဥပဒေများ ပြဋ္ဌာန်း ပေါ်ပေါက်လာသည့်အခါ အဆိုပါ ဥပဒေပါ ပြဋ္ဌာန်းချက်များ၊ စည်းမျဉ်း၊ စည်းကမ်းများနှင့် ကိုက်ညီစေရန် လည်းကောင်း လိုက်နာဆောင်ရွက်ရမည်။

၉။ Family United Power Co., Ltd. (မိသားစု စုစည်းစွမ်းအား ကုမ္ပဏီလီမိတက်)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် အဆောက်အအုံအတွက် အမှန်တကယ် လိုအပ်သော ဆောက်လုပ်ရေး လုပ်ငန်းသုံး ပစ္စည်းများကို ပြည်ပမှ တင်သွင်းသည့်အခါ ပစ္စည်းအမျိုးအစားနှင့် အရေအတွက်ကို BQ တွင် ဖော်ပြထားသည့်အတိုင်း မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၏ လမ်းညွှန် ချက်နှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်။

၁၀။ Family United Power Co., Ltd. (မိသားစု စုစည်းစွမ်းအား ကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထား ဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ် ဆောင်ရွက်ရမည်။

၁၁။ Family United Power Co., Ltd. (မိသားစု စုစည်းစွမ်းအား ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန် အတွက်လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြု ထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာလိုက်နာဆောင်ရွက်ရမည်။

၁၂။ Family United Power Co., Ltd. (မိသားစု စုစည်းစွမ်းအား ကုမ္ပဏီလီမိတက်) သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျ ထားရှိဆောင်ရွက်ရမည်။ ထို့ပြင် နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံး လုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေ ကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၃။ Family United Power Co., Ltd. (မိသားစု စုစည်းစွမ်းအား ကုမ္ပဏီလီမိတက်)သည် ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၄။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်)ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

ပြည်ထဲရေးဝန်ကြီးဌာန

ဆက်သွယ်ရေးနှင့်သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

ဘဏ္ဍာရေးဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

အလုပ်သမား၊အလုပ်အကိုင်နှင့်လူမှုဖူလုံရေးဝန်ကြီးဌာန

နေပြည်တော်ကောင်စီ

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်

ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့လျှပ်စစ်ဓါတ်အားလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း

၇

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၊ ရန်ကုန်မြို့

အုပ်ချုပ်မှုဒါရိုက်တာ၊ Family United Power Co., Ltd. (မိသားစု စုစည်းစွမ်းအား ကုမ္ပဏီလီမိတက်)

## Family United Power Co., Ltd.မှ ပုဗ္ဗသီရိရွှေပင်းမေဘ တည်ဆောက်၍ ဆိုင်ခန်းများ ငှားရမ်းခြင်း လုပ်ငန်းဆောင်ရွက်ခွင့်နှင့် စပ်လျဉ်းသည့် အဓိကအချက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Family United Power Co., Ltd. |
| | လုပ်ငန်းအဆိုပြုသူအမည် | - ဦးအောင်တင်စိုး(အဘ-ဦးစိုးလွင်(ခ)တန်ကင်ချန်) (အုပ်ချုပ်မှုဒါရိုက်တာ) |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - လီမိတက်ကုမ္ပဏီ(Private Company ဖြစ်ပါသည်။) |
| | အဆိုပြုလုပ်ငန်းအမျိုးအစား | - ပုဗ္ဗသီရိရွှေပင်းမေဘ တည်ဆောက်၍ ဆိုင်ခန်းများ ငှားရမ်းခြင်း လုပ်ငန်း |
| | လုပ်ငန်းတည်နေရာ / မြေအကျယ်အဝန်း | - နေပြည်တော်၊ ပုဗ္ဗသီရိမြို့နယ်၊ မင်္ဂလာဒီပရပ်ကွက်၊ ဦးပိုင်မြေကွက်အမှတ်PH-02၊ မြေတိုင်းရပ်ကွက် အမှတ်၁၂/ ချင်းတွင်းအနောက်ရပ်ရှိ မြေ(၈.၃၂)ဧကတွင် ဆောင်ရွက်မည်ဖြစ်ပါသည်။ |
| ၂။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း<br>တည်ဆောက်ရေးကာလ | - ရင်းနှီးမြှုပ်နှံမှု သက်တမ်း ကာလမှာ (၁၀)နှစ်ဖြစ်ပြီး တည်ဆောက်ရေး ကာလမှာ (၂၄)လ ဖြစ်ပါသည်။ |
| ၃။ | ရင်းနှီးမြှုပ်နှံမှုပမာဏ | **- ကျပ် ၃၇၀၀.၀၀ သန်း (US$ ၂.၀၄ သန်း အပါအဝင်)** |
| ၄။ | လုပ်သားအင်အား | - ပြည်တွင်း- ၁၃၅ ဦး |
| ၅။ | ဝန်ဆောင်မှု<br>(၆)နှစ်မြောက် | (see table below) |
| ၆။ | ဝင်ငွေ<br>အသားတင်အမြတ်<br>(၆ နှစ်မြောက်) | - ကျပ် ၁၁၂၃.၂၀ သန်း<br>- ကျပ် ၄၁၀.၈၇ သန်း |
| ၇။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ်<br>ဝင်ငွေခွန်<br>အရင်းကြေကာလ<br>IRR | <br>- ကျပ် ၁၃၆.၉၆ သန်း<br>- (၅)နှစ် (၃)လ<br>- ၁၃ % |

| စဉ် | အမျိုးအမည် | ငှားရမ်းမည့် ဧရိယာ စုစုပေါင်း | ငှားရမ်းခ နှုန်း ၁စတုရန်းမီတာ (ကျပ်) | ငှားရမ်းခ ရငွေ (ကျပ်) |
|---|---|---|---|---|
| (က) | ကြမ်းခင်းဧရိယာ (ပထမထပ်) | ၃၆၀၀၀ | ၁၅.၆၀ | ၅၆၁,၆၀၀ |
| (ခ) | ကြမ်းခင်းဧရိယာ (ဒုတိယထပ်) | ၃၆၀၀၀ | ၁၅.၆၀ | ၅၆၁,၆၀၀ |

| | | |
|---|---|---|
| ၈။ | သက်ဆိုင်ရာဌာနများမှ သဘောထား | -နေပြည်တော်ကောင်စီမှ ထောက်ခံ တင်ပြထားပါသည်။ ပတ်ဝန်းကျင်/ သစ်တောမှ သဘောထား နှင့်အညီ ကုမ္ပဏီမှ IEE နှင့် EMP အစီရင်ခံစာများအား ရေးဆွဲနေပြီ ဖြစ်ပါကြောင်း တင်ပြထားပါသည်။ |
| ၉။ | ငွေကြေးအထောက်အထား | - ကျပ်ငွေ အထောက်အထားအဖြစ် ကုမ္ပဏီ အမည်ဖြင့် United Amara Bank ၌ (၂၁-၈-၂၀၁၃) နေ့စွဲရှိ ကျပ်(၁၅၀.၀၁)သန်း တင်ပြထားပါသည်။ သုံးစွဲမည့် ကျပ်ငွေ (၁၇၆၄.၃၈)သန်းအတွက် ၈.၅၀% ရှိကြောင်း တင်ပြထားပါသည်။ နိုင်ငံခြားငွေ အထောက်အထား အဖြစ် ကုမ္ပဏီ အမည်ဖြင့် MFTB၌ (၆-၉-၂၀၁၃) နေ့စွဲရှိ စာရင်းလက်ကျန် US$၀.၁၉သန်း တင်ပြထားရာ သုံးစွဲမည့် အမေရိကန်ဒေါ်လာ ၂.၀၄သန်းအတွက် ၉.၃၁ %ရှိ ကြောင်း တင်ပြထားပါသည်။ |
| ၁၀။ | ကတိဝန်ခံချက် | - သက်ဆိုင်ရာ စည်းမျဉ်းစည်းကမ်းများအား လိုက်နာမည် ဖြစ်ကြောင်း ဝန်ခံချက်များ တင်ပြထားပါသည်။ |
| ၁၁။ | အခြား တင်ပြချက် | (က) Family United Power Co.,Ltd. မှ ပုဗ္ဗသီရိ မြို့တွင် Shopping Mall & Amusement Zone ကို ဆောက်လုပ်ခွင့်ပြုပါရန် တည်နေရာပြ မြေပုံနှင့်အတူ တင်ပြလာခြင်း ကိစ္စအတွက် အဆောက်အဦ ဆောက်လုပ်ခြင်းကို ယာယီအားဖြင့် အထူးဖွံ့ဖြိုးရေး စီမံကိန်း အနီးကပ် ကြီးကြပ် ကွပ်ကဲမှုအဖွဲ့ နေပြည်တော်မှ ကြိုတင်ခွင့်ပြု ထားပါကြောင်း တင်ပြထားပါသည်။<br>(ခ) မီးဘေးအန္တရယ် ကာကွယ်ရေး၊ လုပ်သားများ သက်သာ ချောင်ချိရေးနှင့် လုပ်ငန်းခွင် သာယာရေး ဆောင်ရွက်မည့် အစီအစဉ်များ တင်ပြထားပါသည်။ |
| ၁၂။ | လျှပ်စစ်ဓါတ်အား | - လျှပ်စစ်ဓါတ်အားကို နိုင်ငံတော်မှ ဖြန့်ဖြူးပေးသည့် လျှပ်စစ်ဓာတ်အားလိုင်းမှ ရယူမည့်အပြင် ကိုယ်ပိုင်မီး အားပေးစက်များ၊ 500 KVAအင်အားရှိ Transformer များနှင့် လိုအပ်ပါက Generator 500KVA(၂)လုံးကို တပ်ဆင် အသုံးပြုမည် ဖြစ်ပါကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။ |
| ၁၃။ | စိစစ်တင်ပြချက် | (က)အဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ အဆိုပြုချက် စိစစ်ရေး အဖွဲ့၏ (၂၄/၂၀၁၃) (၁၀-၁၀-၂၀၁၃) ဆွေးနွေးချက် အရ ကွင်းဆင်းစစ်ဆေးရေးအဖွဲ့မှ(၁၃-၁၁-၂၀၁၃)နေ့ တွင် သွားရောက် စစ်ဆေးခဲ့ပါသည်။ ကွင်းဆင်း စစ်ဆေးချက်အရ အဆိုပြုချက် စိစစ်ရေး အဖွဲ့မှ |

ရှော့ပင်းမောလုပ်ငန်းအတွက် ပြည်ပမှ တင်သွင်းရန် လိုအပ်သည့် တည်ဆောက်ရေး လုပ်ငန်းသုံး ပစ္စည်းများအား ပြည်တွင်းမှသာ ဝယ်ယူရန် ဆုံးဖြတ်ခဲ့ပါသည်။

(ခ) ကုမ္ပဏီမှ အောက်ပါအတိုင်း တင်ပြထားပါသည်-

- ပုဗ္ဗသီရိ ရှော့ပင်းမော တည်ဆောက် ပြီးစီးမှု အခြေအနေမှာ ၆၀ % ထိဖြစ်ပါသည်။
- Car Parking ၌ ကားစီးရေ(၁၀၀)စီး ထားရှိ နိုင်မည် ဖြစ်ပါသည်။
- ပုဗ္ဗသီရိရှော့ပင်းမောအတွက် ပြည်ပမှ တင်သွင်း ရန် လိုအပ်သည့် တည်ဆောက်ရေး လုပ်ငန်းသုံး ပစ္စည်းများအား ပြည်တွင်းမှသာ ဝယ်ယူမည် ဖြစ်ပါသည်။

(ဂ) ကုမ္ပဏီမှ အောက်ဖော်ပြပါ လုပ်ငန်းသုံး ယန္တရားများအား ပြည်ပမှ ဝယ်ယူလိုကြောင်း တင်ပြထားပါသည်-

အမေရိကန်ဒေါ်လာ
(ထောင်ပေါင်း)

| အမျိုးအမည် | ဈေးနှုန်း (US$) | အရေအတွက် | စုစုပေါင်း (US$) |
|---|---|---|---|
| Escalator | ၃၁.၂၅ | ၄ | ၁၂၅.၀၀ |
| Elevator | ၁၀.၅၀ | ၂ | ၂၁.၀၀ |
| Excavator (Brand New) | ၈၈.၀၀ | ၂ | ၁၇၆.၀၀ |
| Dozer TY 160 | ၇၅.၀၀ | ၂ | ၁၅၀.၀၀ |
| Wheel Loader | ၅၁.၀၀ | ၂ | ၁၀၂.၀၀ |
| Vibration Roller | ၄၀.၀၀ | ၂ | ၈၀.၀၀ |
| Brand New Forklifit | ၁၂.၀၀ | ၂ | ၂၄.၀၀ |
| စုစုပေါင်း | ၃၀၇.၇၅ | ၁၆ | ၆၇၈.၀၀ |

| | | |
|---|---|---|
| ၁၄။ | အခွန်အကောက် ကင်းလွတ်ခွင့် လျှောက်ထားချက် | - မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၁၁)၊ ပုဒ်မ ၂၀ပါ (က၊ ဂ၊ င၊ စ၊ ဆ၊ ဇ၊ ည) အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါမည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက- ၆(က)/မ-၁၃၇၁/၂၀၁၄( ၉၁ - ၈ )
ရက်စွဲ၊ ၂၀၁၄ ခုနှစ် ဇန်နဝါရီ လ ၄ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **Family United Power Co., Ltd.သည် နေပြည်တော်၊ ပုဗ္ဗသီရိမြို့နယ်၊ မင်္ဂလာဒီပရပ်ကွက်၊ ဦးပိုင်မြေကွက်အမှတ် PH-02တွင် ပုဗ္ဗသီရိ ရွှေဘုံပင်းမော တည်ဆောက်၍ ဆိုင်ခန်းများ ငှားရမ်းခြင်း ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

၁။ Family United Power Co., Ltd.သည် နေပြည်တော် စည်ပင်သာယာရေး ကော်မတီထံမှ ကုမ္ပဏီ၏ မန်နေဂျင်း ဒါရိုက်တာ ဦးအောင်တင်စိုး အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော နေပြည်တော်၊ ပုဗ္ဗသီရိမြို့နယ်၊ မင်္ဂလာဒီပရပ်ကွက်၊ ဦးပိုင်မြေကွက်အမှတ် PH-02ရှိ မြေ(၈.၃၂)ဧကတွင် ပုဗ္ဗသီရိရွှေဘုံပင်းမော တည်ဆောက်၍ ဆိုင်ခန်းများ ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးအောင်တင်စိုး (အဘ-ဦးစိုးလွင်(ခ)တန်ကင်ချန်) မှ အဆိုပြုချက် တင်ပြလာခြင်း ဖြစ်ပါသည်။

၂။ အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု သက်တမ်းကာလမှာ ခွင့်ပြုမိန့်ကျသည့်အချိန်မှ(၁၀)နှစ်ထိ ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ (၂၄)လအတွင်း ဖြစ်ပါသည်။

၃။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ အမေရိကန်ဒေါ်လာ(၂.၀၄)သန်း အပါအဝင် စုစုပေါင်း ကျပ်(၃၇၀၀.၀၀)သန်းဖြစ်ပါသည်။ စက်ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းတန်ဖိုးများ ဖြစ်သည့် အမေရိကန်ဒေါ်လာ(၁.၃၁)သန်းဖိုးကို ပြည်တွင်း၌ အမေရိကန်ဒေါ်လာဖြင့် ဝယ်ယူမည်ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | |
|---|---|---|
| (က) ငွေသား | ကျပ် | ၂၉.၅၈ သန်း |
| (ခ) မြေတန်ဖိုး | ကျပ် | ၁၂၄.၈၀ သန်း |
| (ဂ) စက်ပစ္စည်း ကိရိယာနှင့် လုပ်ငန်းသုံးကားများ တန်ဖိုး | ကျပ် | ၆၄၄.၁၀ သန်း(အမေရိကန်ဒေါ်လာ ၀.၆၈သန်း အပါအဝင်) |
| (ဃ) အဆောက်အဦများ | ကျပ် | ၂၂၉၂.၈၁ သန်း (အမေရိကန် ၀.၇၂ သန်း အပါအဝင်) |
| (င) လုပ်ငန်းသုံးပစ္စည်းများ | ကျပ် | ၆၀၈.၇၁ သန်း(အမေရိကန်ဒေါ်လာ၀.၆၄သန်း အပါအဝင်) |
| **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | **ကျပ်** | **၃၇၀၀.၀၀ သန်း (အမေရိကန်ဒေါ်လာ ၂.၀၄ သန်း အပါအဝင်)** |

၄။ လုပ်ငန်း ဆောင်ရွက်ရန် ပြည်တွင်းမှ ဝန်ထမ်း (၁၃၅)ဦး ခန့်ထားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ ပြည်တွင်း ဝန်ထမ်း(၁)ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် (၉၀,၀၀၀)ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ်(၅၀၀,၀၀၀)ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်း၏ ပုံမှန်နှစ် (၆)နှစ်မြောက်တွင် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်နိုင်မှု အခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | ငှားရမ်းမည့် ဧရိယာ စုစုပေါင်း (စတုရန်းမီတာ) | ငှားရမ်းခနှုန်း ၁စတုရန်းမီတာ (ကျပ်) | ငှားရမ်းခ ရငွေ (ကျပ်သန်း) |
|---|---|---|---|---|
| (က) | ကြမ်းခင်းဧရိယာ (ပထမထပ်) | ၃၆၀၀၀ | ၁၅.၆၀ | ၅၆၁.၆၀ |
| (ခ) | ကြမ်းခင်းဧရိယာ (ဒုတိယထပ်) | ၃၆၀၀၀ | ၁၅.၆၀ | ၅၆၁.၆၀ |

၆။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

**အမေရိကန်တစ်ဒေါ်လာ=၉၅၀ ကျပ်**

| စဉ် | အကြောင်းအရာ | စုစုပေါင်း ကျပ်(သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၁၁၂၃.၂၀ |
| (ခ) | အသုံးစရိတ် | ၇၁၂.၃၃ |
| (ဂ) | အသားတင်အမြတ် | ၄၁၀.၈၇ |

၇။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် (၁၃၆.၉၆)သန်း ရရှိမည်ဖြစ်ပါသည်။ လုပ်ငန်း ၏ အရင်းကြေကာလမှာ (၅)နှစ် (၃)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၁၃ ရာခိုင်နှုန်း ဖြစ်ပါသည်။

၈။ ယင်းအဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများတောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **နေပြည်တော်ကောင်စီ (နောက်ဆက်တွဲ-က)**

(၁) ရင်းနှီးမြှုပ်နှံမှုပြုမည့် နေရာသည် မြို့ပြစီမံကိန်းနှင့် ညီညွတ်မှု ရှိပါကြောင်း၊

(၂) ပြည်သူတို့၏ လူမှုစီးပွားရေးကို ထိခိုက်မှုမရှိပါကြောင်း၊

(၃) မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုး တိုးတက်မှုအတွက် အထောက်အကူပြုပါကြောင်း၊

(၄) ရွှေ့ပြောင်းမော တည်ဆောက်၍ ဆိုင်ခန်းများငှားရမ်းခြင်း ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်နိုင်ရန် အဆင့်ဆင့်စိစစ်ခဲ့ပြီး စနစ်တကျ မြေနေရာများအား ခွင့်ပြုခဲ့မှုကြောင့် နေပြည်တော်ကောင်စီအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း၊

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန (နောက်ဆက်တွဲ-ခ)**

(၁) ရွှေ့ပြောင်းမော ဆောက်လုပ်နေစဉ် ကာလအတွင်း ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် တည်ဆောက်မှုနည်းစနစ်၊ မိလ္လာအညစ်အကြေး စွန့်ပစ်သည့် နည်းစနစ်၊ ရေဆိုးနှင့် အညစ်အကြေးများ ပြန်လည်သန့်စင်သည့် နည်းစနစ်၊ လျှပ်စစ်ဓာတ်အား သုံးစွဲမှု သက်သာစေမည့် သဘာဝ အလင်းပေး နည်းစနစ်များ၊ လေအေးပေးစက်သုံးစွဲမှု သက်သာစေမည့် နည်းစနစ်များနှင့် အရေးပေါ် မီးသတ်ရန် ရေကန်များအား စနစ်တကျ ထည့်သွင်း၍ ပတ်ဝန်းကျင်မြင်ကွင်း မထိခိုက်စေမည့် အဆောက်အဦပုံစံများ ရေးဆွဲတည်ဆောက်ရန်၊

(၂) လုပ်ငန်း လည်ပတ်ချိန်တွင် ငှားရမ်းထားသည့် ဆိုင်ခန်းများမှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်း၊ အရည်နှင့် စွန့်ပစ်အဆီများအား ပတ်ဝန်းကျင်ရှိ မြစ်၊ ချောင်းများ အတွင်းသို့ တိုက်ရိုက် မစွန့်ပစ်ဘဲ စက်မှုဝန်ကြီးဌာနမှ ပြဋ္ဌာန်းထားသော စံချိန်စံညွှန်း ထိရောက်အောင် သန့်စင်ပြီးမှ စွန့်ပစ်ရန်နှင့် စွန့်ပစ်အဆီ/ အရည်/ ပစ္စည်းများ စီမံခန့်ခွဲမှု အစီအမံနှင့် စီမံချက်များ ရေးဆွဲ၍ စီမံချက်ပါ အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(၃) ဈေးဆိုင်ခန်းများမှ စွန့်ပစ်အမှိုက် ထွက်ရှိမှု လျော့နည်းစေရေးအတွက် လျှော့ချသည့် နည်းလမ်း (Reduce)၊ စွန့်ပစ်အမှိုက်များမှ စွန့်ပစ်ပစ္စည်း အချို့အား ပြန်လည် အသုံးပြုမည့် နည်းလမ်း(Reuse) နှင့်စွန့်ပစ်အမှိုက်များအား ပြန်လည်ပြုပြင် သုံးစွဲမည့် နည်းလမ်း (Recycle)များ အသုံးပြု၍ နေ့စဉ် ထွက်ရှိသည့် အမှိုက်ပမာဏ လျော့နည်းစေမည့် စီမံချက်များ ရေးဆွဲ၍ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(၄) တင်ပြလာသော အဆိုပြုလွှာပါ ဓာတ်ပုံ မှတ်တမ်းများအရ ရွှေ့ပြောင်းမော တည်ဆောက်ရေး လုပ်ငန်းများအား ၂၀၁၁ခုနှစ်မတိုင်မီမှ စတင်ဆောင်ရွက် နေခဲ့ပြီး၂၀၁၃ခုနှစ်၊ ဇန်နဝါရီလအထိ တည်ဆောက်ရေး လုပ်ငန်းများ အကြမ်းထည် ဆောင်ရွက်ပြီးစီးနေပြီ ဖြစ်သဖြင့် လုပ်ငန်း လည်ပတ် ဆောင်ရွက်သော ကာလ အတွက် ပြည့်စုံစွာ အသေးစိတ် ရေးဆွဲထားသည့် အခိုးအငွေ့ ထုတ်လုပ်မှု ကန့်သတ်ချက် ပမာဏ၊ ပတ်ဝန်းကျင် အရည်အသွေး စံချိန် စံညွှန်း၊ စီမံကိန်း လုပ်ငန်း လည်ပတ်မှု၊ တပ်ဆင်ဆောင်ရွက်မှုနှင့် အခြေခံ အဆောက်အအုံများ တည်ဆောက်မှု၊ ဆိုးကျိုး သက်ရောက်မှုများအား လျော့ချရေးအတွက် လက်ရှိ လုပ်ငန်း ဆောင်ရွက်မှုနှင့် အချိန်ဇယားများ၊ စီမံကိန်းနှင့် သက်ဆိုင်သည့် မြေပုံများ၊ စီမံကိန်း လုပ်ငန်းခွင်အလိုက် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုနှင့် သင့်လျော်သည့် စောင့်ကြည့် စစ်ဆေးခြင်းဆိုင်ရာ အသေးစိတ် အစီအစဉ်များနှင့် အရေးပေါ် အစီအစဉ်တို့ ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု အစီအစဉ်အား (Environmental Management Plan-EMP) ရေးဆွဲပြုစု တင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(၅) ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ ပြဋ္ဌာန်းချက်များနှင့် ဆက်လက် ထုတ်ပြန် ပြဋ္ဌာန်းမည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး နည်းဥပဒေများ၊ ယင်းဥပဒေ၊ နည်းဥပဒေများအရ ထုတ်ပြန်သွားမည့် စံချိန်စံညွှန်းများ၊ စည်းမျဉ်း စည်းကမ်းများအား လိုက်နာဆောင်ရွက်သွားရန်၊

(တစ်ဖက်ပါ သဘောထား မှတ်ချက်နှင့်အညီ ပတ်ဝန်းကျင် ထိန်းသိမ်း ရေးအတွက် ကနဦး ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း နှင့် စီမံခန့်ခွဲမှု အစီအစဉ် ဆောင်ရွက်ရန် IEE နှင့် EMP အစီရင်ခံစာတို့အား ကုမ္ပဏီမှ Neo Tech Co.,Ltd. (Third Party) ထံ အပ်နှံ၍ တင်ပြမည်ဖြစ်ကြောင်း (၃၀-၁၂-၂၀၁၃) ရက်စွဲပါစာဖြင့် တင်ပြထား ပါသည်။ )

၉။ ကျပ်ငွေအထောက်အထားအဖြစ် ကုမ္ပဏီအမည်ဖြင့်United Amara Bank၌(၂၀-၈-၂၀၁၃) နေ့စွဲရှိ ကျပ်(၁၅၀.၀၁)သန်း တင်ပြထားသဖြင့် သုံးစွဲမည့်ကျပ်ငွေ (၁၇၆၄.၃၈) သန်းအတွက် ၈.၅၀% ရှိကြောင်း စိစစ်ရပါသည်။ နိုင်ငံခြားငွေ အထောက် အထားအဖြစ် ကုမ္ပဏီ အမည်ဖြင့် MFTB၌ (၆-၉-၂၀၁၃) နေ့စွဲရှိ စာရင်းလက်ကျန် US$ ၀.၁၉သန်း တင်ပြထားသဖြင့် သုံးစွဲမည့် အမေရိကန် ဒေါ်လာ၂.၀၄သန်းအတွက် ၉.၃၁% ရှိကြောင်း စိစစ်ရပါ သည်။

၁၀။ အဆိုပြု လုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပြီး၊ နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်ခြင်း မရှိပါကြောင်းနှင့် လုပ်ငန်းအသစ် ဖြစ်ပါကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော် အစိုးရမှ သတ်မှတ်ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များကို လိုက်နာ ဆောင်ရွက်မည် ဖြစ်ပါကြောင်း၊ ကုမ္ပဏီအနေဖြင့် လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ညစ်ညမ်းမှုနှင့် မီးဘေးအန္တရယ်များ မဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ ကြိုတင် ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်ထားမည်ဖြစ်ကြောင်းနှင့် ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပွား စေရန် ဆောင်ရွက်မည် ဖြစ်ပါကြောင်း၊ ကုမ္ပဏီအနေဖြင့် ပြည်ပမှ ဝယ်ယူတင်သွင်းမည့် ပစ္စည်းများ အား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ စည်းကမ်းချက်များအတိုင်း တင်သွင်းဆောင်ရွက်မည် ဖြစ်ပါကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၁။ လုပ်ငန်းခွင် သာယာရေးနှင့် ဝန်ထမ်းများ သက်သာ ချောင်ချိရေးနှင့်စပ်လျဉ်း၍ လုပ်သားများ ၏လစာကို လက်ရှိဖြစ်ပေါ်လျက်ရှိသည့် လစာနှုန်းထားများနှင့်အညီ ပေးမည်ဖြစ်ပြီး လုပ်သားများ၏ အကျိုးခံစားခွင့်ကို တည်ဆဲအလုပ်သမား ဥပဒေများနှင့်အညီ ခံစားနိုင်ရန် ဆောင်ရွက်ပေးမည် ဖြစ်ပါကြောင်း၊ ပုဗ္ဗသီရိ ရှော့ပင်းမောတည်ဆောက်၍ ဆိုင်ခန်းများ ငှားရမ်းခြင်းလုပ်ငန်းတွင် တာဝန် ထမ်းဆောင်နေသော ဝန်ထမ်းများအား တူညီဝတ်စုံများ စနစ်တကျ ဝတ်ဆင်စေပြီးမှ လုပ်ငန်းခွင်သို့ ဝင်ရောက်စေမည် ဖြစ်ပါကြောင်းနှင့် မီးဘေးကြိုတင်ကာကွယ်ရေး အစီအစဉ်များအား တင်ပြထား ပါသည်။

၁၂။ လုပ်ငန်း ဆောင်ရွက်ရာတွင် လျှပ်စစ်ဓါတ်အားကို နိုင်ငံတော်မှ ဖြန့်ဖြူးပေးသည့် လျှပ်စစ် ဓါတ်အားလိုင်းမှ ရယူမည့်အပြင် ကိုယ်ပိုင်မီးအားပေးစက်များ၊ 500 KVAအင်အားရှိ Transformer များနှင့် လိုအပ်ပါက Generator 500KVA (၂)လုံးကို တပ်ဆင် အသုံးပြုမည် ဖြစ်ပါကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၁၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၁၁)၊ ပုဒ်မ ၂၀ပါ (က၊ ဂ၊ င၊ စ၊ ဆ၊ ဈ ၊ ည) အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည် ဖြစ်ပါမည်။

၁၄။ **စိစစ်တင်ပြချက်**

(က) အဆိုပြု လုပ်ငန်းနှင့် စပ်လျဉ်း၍ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၂၄/၂၀၁၃) (၁၀-၁၀-၂၀၁၃)အစည်းအဝေးမှ ကွင်းဆင်းစစ်ဆေးရန် ဆုံးဖြတ်ခဲ့ပါသည်။ ကွင်းဆင်း စစ်ဆေးရေးအဖွဲ့မှ (၁၃-၁၁-၂၀၁၃)နေ့တွင် သွားရောက် စစ်ဆေးခဲ့ရာ ပုဗ္ဗသီရိ ရှော့ပင်းမော တည်ဆောက် ပြီးစီးမှုမှာ ၅၀ % ပြီးစီးပြီဖြစ်၍ ရှော့ပင်းမော လုပ်ငန်း

အတွက် ပြည်ပမှတင်သွင်းရန် လိုအပ်သည့် တည်ဆောက်ရေး လုပ်ငန်းသုံးပစ္စည်းများအား ပြည်တွင်းမှသာ ဝယ်ယူရန် ဆုံးဖြတ်ခဲ့ပါသည်။ **နောက်ဆက်တွဲ(ဂ)**

(ခ) ကုမ္ပဏီမှ အောက်ပါအတိုင်း တင်ပြထားပါသည်-

- ပုဗ္ဗသီရိ ရွှေပင်းမော တည်ဆောက်ပြီးစီးမှု အခြေအနေမှာ ၆၀ % ထိဖြစ်ပါသည်။
- Car Parking ၌ ကားစီးရေ(၁၀၀)စီး ထားရှိနိုင်မည် ဖြစ်ပါသည်။
- ပုဗ္ဗသီရိ ရွှေပင်းမောအတွက် ပြည်ပမှ တင်သွင်းရန် လိုအပ်သည့် တည်ဆောက်ရေးလုပ်ငန်းသုံး ပစ္စည်းများအား ပြည်တွင်းမှသာ ဝယ်ယူမည်ဖြစ်ပါသည်။

(ဂ) ကုမ္ပဏီမှ အောက်ဖော်ပြပါ လုပ်ငန်းသုံး ယန္တရားများအား ပြည်ပမှ ဝယ်ယူလိုကြောင်း တင်ပြထားပါသည်-

အမေရိကန်ဒေါ်လာ
(ထောင်ပေါင်း)

| အမျိုးအမည် | ဈေးနှုန်း (US$) | အရေအတွက် | စုစုပေါင်း (US$) |
|---|---|---|---|
| Escalator | ၃၀.၂၅ | ၄ | ၁၂၅.၀၀ |
| Elevator | ၁၀.၅၀ | ၂ | ၂၁.၀၀ |
| Excavator (Brand New) | ၈၈.၀၀ | ၂ | ၁၇၆.၀၀ |
| Dozer TY 160 | ၇၅.၀၀ | ၂ | ၁၅၀.၀၀ |
| Wheel Loader | ၅၁.၀၀ | ၂ | ၁၀၂.၀၀ |
| Vibration Roller | ၄၀.၀၀ | ၂ | ၈၀.၀၀ |
| Brand New Forklifit | ၁၂.၀၀ | ၂ | ၂၄.၀၀ |
| စုစုပေါင်း | ၃၀၇.၇၅ | ၁၆ | ၆၇၈.၀၀ |

၁၈။ သို့ဖြစ်ပါ၍ Family United Power Co., Ltd. မှ နေပြည်တော်၊ ပုဗ္ဗသီရိမြို့နယ်၊ မင်္ဂလာဒီပရပ်ကွက်တွင် ပုဗ္ဗသီရိ ရွှေပင်းမော တည်ဆောက်၍ ဆိုင်ခန်းများ ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် လမ်းညွှန်မှု ခံယူအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ ညွှန်ကြားရေးမှူးချုပ်)

မိတ္တူ

ရုံးလက်ခံ

ဏ.၁၂၉၈
15.11.13

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
နေပြည်တော်ကောင်စီ

စာအမှတ်၊ ၇ / ၁ - ၃၀ / ဦး ၆
ရက် စွဲ ၊ ၂၀၁၃ ခုနှစ်၊ နိုဝင်ဘာလ ၁၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၈-၁၀-၂၀၁၃) ရက်စွဲပါ စာအမှတ်၊ ရက-၆(က)/ မ-၁၃၇၁/ ၂၀၁၃ (၂၇၆၀၈-ဃ)

၁။ ရင်းနှီးမြှုပ်နှံသူ ဦးအောင်တင်စိုးမှ အဆိုပြုချက်တင်ပြလာမှုအပေါ် သဘောထားမှတ်ချက်အား အောက်ပါအတိုင်း ပြန်ကြားအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုပြုမည့်နေရာသည် မြို့ပြစီမံကိန်းနှင့် ညီညွတ်မှု ရှိပါသည်။

(ခ) ပြည်သူတို့၏ လူမှုစီးပွားရေးကို ထိခိုက်နိုင်မှု မရှိပါ။

(ဂ) မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူပြုပါသည်။

(ဃ) Family United Power Co.,Ltd မှ နေပြည်တော်၊ ပုဗ္ဗသီရိမြို့နယ်၊ မင်္ဂလာဒီပ ရပ်ကွက်၊ ဦးပိုင်မြေကွက်အမှတ် (PH-02)၊ မြေဧရိယာ(၈.၃၂)ဧကတွင် ပုဗ္ဗသီရိ ရွှေပင်းမောလ် တည်ဆောက်၍ ဆိုင်ခန်းများငှားရမ်းခြင်းဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်နိုင်ရန် အဆင့်ဆင့်စိစစ်ခဲ့ပြီး၊ စနစ်တကျ မြေနေရာများအား ခွင့်ပြုခဲ့မှု ကြောင့် နေပြည်တော်ကောင်စီအနေဖြင့် ကန့်ကွက်ရန် မရှိပါ။

၂။ နေပြည်တော်ကောင်စီ ဥက္ကဋ္ဌသည် နေပြည်တော်ကောင်စီနယ်မြေအတွင်း ဒေသဖွံ့ဖြိုးရေး လုပ်ငန်းများဆောင်ရွက်ရန် ခရီးသွားနေပါသဖြင့် ဥက္ကဋ္ဌကိုယ်စား လက်မှတ်ရေးထိုးခြင်းဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
ဦးကံချွန်၊ ကောင်စီဝင်

မိတ္တူကို
လက်ခံစာတွဲ
မျှောစာတွဲ

KTW-(169)

M.1254
7.11.13

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန**
**ပြည်ထောင်စုဝန်ကြီးရုံး**

**စာအမှတ်** ၂/၂၂၀(ခ)(၆)/( 1947 /၂၀၁၃)
**ရက်စွဲ** ၂၀၁၃ ခုနှစ်၊ နိုဝင်ဘာလ ၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ Family United Power Co., Ltd မှ ပုဗ္ဗသီရိရှော့ပင်းမောတည်ဆောက်၍ ဆိုင်ခန်းများငှားရမ်းခြင်းဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၈-၁၀-၂၀၁၃ ရက်စွဲပါစာအမှတ် - ရက - ၆ (က) / မ - ၁၃၇၁ / ၂၀၁၃ (၂၇၆၀၈-င)

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ Family United Power Co., Ltd သို့ နေပြည်တော်ကောင်စီနယ်မြေ၊ ပုဗ္ဗသီရိမြို့နယ်၊ မင်္ဂလာဒီပရပ်ကွက်၊ ဦးပိုင်မြေကွက်အမှတ် (PH-02) ရှိ မြေ(၈.၃၂)ဧကပေါ်တွင် ပုဗ္ဗသီရိရှော့ပင်းမောတည်ဆောက်၍ ဆိုင်ခန်းများငှားရမ်းခြင်း လုပ်ငန်းဆောင်ရွက်ရန်ကိစ္စနှင့်ပတ်သက်၍ ပတ်ဝန်းကျင်ထိခိုက်မှု ရှိ/မရှိ သဘောထားမှတ်ချက် တောင်းခံလာခြင်းအပေါ် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာနမှ စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ ပူးတွဲပေးပို့လာသည့်အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက်၊ ပြည်ပမှ ဝယ်ယူမည့်ဆောက်လုပ်ရေးနှင့် လုပ်ငန်းသုံးပစ္စည်းစာရင်း၊ မီးဘေးအန္တရာယ်ကြိုတင်ကာကွယ် တားဆီးရေး အစီအစဉ်၊ ဝန်ထမ်းများ လုပ်ငန်းခွင်သာယာရေးနှင့် သက်သာချောင်ချိရေးအစီအစဉ်၊ ရှော့ပင်းမောဆောက်လုပ်မည့် မြေနေရာ၊ မြေပုံမိတ္တူ၊ အဆောက်အဦဆောက်လုပ်မည့်ပုံကြမ်း၊ ၂၀၁၃ ခုနှစ်၊ ဇန်နဝါရီလအတွင်း ရှော့ပင်းမောဆောက်လုပ်ပြီးစီးမှု အခြေအနေများအား ဓါတ်ပုံများနှင့်တကွဖော်ပြထားပြီး နေပြည်တော်၊ ပုဗ္ဗသီရိမြို့နယ်၊ မင်္ဂလာဒီပရပ်ကွက်၊ ဦးပိုင်မြေကွက် အမှတ် (PH-02) ရှိ မြေ(၈.၃၂)ဧကပေါ်တွင် ပုဗ္ဗသီရိရှော့ပင်းမောဆောက်လုပ်ခွင့်ပြုရန် တင်ပြလာခြင်းအပေါ် ယာယီအားဖြင့် ကြိုတင်ခွင့်ပြုကြောင်းနှင့် အဆောက်အဦဆောက်လုပ်ခြင်းကို နေပြည်တော်စည်ပင်သာယာရေးကော်မတီနှင့် ဆက်သွယ်ဆောင်ရွက်သွားရန် Family United

Power Co., Ltd သို့ အထူးဖွံ့ဖြိုးရေးစီမံကိန်းအနီးကပ်ကြီးကြပ်ကွပ်ကဲမှုအဖွဲ့၊ နေပြည်တော်၏ (၂၄-၁၁-၂၀၁၀) ရက်စွဲပါစာအမှတ်- ၆၉၇ / ထဖတ - ၅ / နပတ (စီမံ) စာဖြင့် အကြောင်းကြားစာ ပေးပို့ထားကြောင်းတွေ့ရှိရပြီး ပတ်ဝန်းကျင်ထိခိုက်မှု မရှိစေရေးနှင့်ပတ်သက်၍ ရှော့ပင်းမော ဆောက်လုပ်စဉ်နှင့် လုပ်ငန်းလည်ပတ်ချိန်၌ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်း၊ အငွေ့၊ အနံ့၊ အသံ စသည်တို့အား ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် စနစ်တကျထိန်းသိမ်းဆောင်ရွက်မည့် အသေး စိတ် အစီအစဉ်များ ထည့်သွင်းဖော်ပြထားခြင်းမရှိသည်ကို စိစစ်တွေ့ရှိရပါသည်။

၃။ အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်ထိခိုက်နိုင်မှု ရှိ/မရှိ နှင့်ပတ်သက်၍ ရှော့ပင်းမော တည်ဆောက်ဆဲကာလတွင် ဆောက်လုပ်ရေးလုပ်ငန်းခွင်မှ ထွက်ရှိလာမည့် ဖုန်မှုန့်များ၊ တုန်ခါမှု များ၊ မြေယာပြုပြင်၊ မြေတူးခြင်းလုပ်ငန်းမှ ထွက်ရှိလာမည့် စွန့်ပစ်မြေစာပုံများနှင့် စွန့်ပစ် ရေဆိုးများ၊ ဆောက်လုပ်ရေးလုပ်ငန်းသုံး ယာဉ်/ယန္တရားများမှ ထွက်ရှိလာမည့် ဆူညံသံ၊ စက်ဆီ၊ ချောဆီ၊ အခိုးအငွေ့များကြောင့် ပတ်ဝန်းကျင် မြေထု၊ လေထုနှင့် အသံ ညစ်ညမ်းမှုဖြစ်ပေါ် နိုင်ခြင်း၊ ဆိုင်ခန်းများငှားရမ်းချိန်တွင် ဝန်ဆောင်မှုလုပ်ငန်းများဖြစ်သည့် အစားအစာရောင်းချ သည့် ဆိုင်ခန်းများ၊ စာသောက်ဆိုင်များမှ ထွက်ရှိလာမည့် အစားအသောက်အညစ်အကြေးများ၊ ဆွေးမြေ့ရန်အချိန်ကြာမြင့်သည့် ပလပ်စတစ်နှင့် ကျွတ်ကျွတ်အိတ်ကဲ့သို့ အမှိုက်များအား စနစ် တကျမစွန့်ပစ်ခြင်းကြောင့် ပတ်ဝန်းကျင် မြေထုညစ်ညမ်းမှုများဖြစ်ပေါ်နိုင်ကြောင်း စိစစ်တွေ့ရှိရ ပါသည်။

၄။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် Family United Power Co., Ltd သို့ နေပြည်တော်ကောင်စီနယ်မြေ၊ ပုဗ္ဗသီရိမြို့နယ်၊ မင်္ဂလာဒီပရပ်ကွက်၊ ဦးပိုင်မြေကွက်အမှတ် (PH-02) ရှိ မြေ(၈.၃၂)ဧကပေါ်တွင် ပုဗ္ဗသီရိရှော့ပင်းမောတည်ဆောက်၍ ဆိုင်ခန်းများငှားရမ်းခြင်း လုပ်ငန်း ဆောင်ရွက်ရန်ကိစ္စနှင့်ပတ်သက်၍ အောက်ပါအချက်များအား လိုက်နာဆောင်ရွက် သွားရန်လိုအပ်မည်ဖြစ်ကြောင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) ရှော့ပင်းမောဆောက်လုပ်နေစဉ်ကာလအတွင်း ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် တည်ဆောက်မှုနည်းစနစ်၊ မိလ္လာအညစ်အကြေးစွန့်ပစ်သည့် နည်းစနစ်၊ ရေဆိုးနှင့် အညစ်အကြေးများ ပြန်လည်သန့်စင်သည့်နည်းစနစ်၊ လျှပ်စစ်ဓာတ်အားသုံးစွဲမှုသက်သာစေမည့် သဘာဝအလင်းပေးနည်းစနစ်များ၊ လေအေးပေးစက် သုံးစွဲမှု သက်သာစေမည့်နည်းစနစ်များနှင့် အရေးပေါ် မီးသတ်ရန် ရေကန်များအား စနစ်တကျထည့်သွင်း၍ ပတ်ဝန်းကျင်မြင်ကွင်း မထိခိုက်စေမည့် အဆောက်အဦပုံစံများ ရေးဆွဲတည်ဆောက်ရန်၊

(ခ) လုပ်ငန်းလည်ပတ်ချိန်တွင် ငှားရမ်းထားသည့် ဆိုင်ခန်းများမှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်း၊ အရည်နှင့်စွန့်ပစ်အဆီများအား ပတ်ဝန်းကျင်ရှိ မြစ်၊ ချောင်းများအတွင်းသို့ တိုက်ရိုက်မစွန့်ပစ်ဘဲ စက်မှုဝန်ကြီးဌာနမှ ပြဋ္ဌာန်းထားသော စံချိန်စံညွှန်းထိရောက်အောင် သန့်စင်ပြီးမှ စွန့်ပစ်ရန်နှင့် စွန့်ပစ်အဆီ/ အရည်/ ပစ္စည်းများ စီမံခန့်ခွဲမှု အစီအမံနှင့် စီမံချက်များ ရေးဆွဲ၍ စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ဂ) ဈေးဆိုင်ခန်းများမှ စွန့်ပစ်အမှိုက်ထွက်ရှိမှု လျော့နည်းစေရေးအတွက် လျှော့ချသည့်နည်းလမ်း (Reduce)၊ စွန့်ပစ်အမှိုက်များမှ စွန့်ပစ်ပစ္စည်းအချို့အား ပြန်လည်အသုံးပြုမည့်နည်းလမ်း (Reuse) နှင့် စွန့်ပစ်အမှိုက်များအား ပြန်လည်ပြုပြင်သုံးစွဲမည့်နည်းလမ်း (Recycle) များ အသုံးပြု၍ နေ့စဉ်ထွက်ရှိသည့် အမှိုက်ပမာဏလျော့နည်းစေမည့် စီမံချက်များ ရေးဆွဲ၍ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ဃ) တင်ပြလာသောအဆိုပြုလွှာပါ ဓာတ်ပုံမှတ်တမ်းများအရ ရှော့ပင်းမောတည်ဆောက်ရေးလုပ်ငန်းများအား ၂၀၁၁ ခုနှစ်မတိုင်မီမှ စတင်ဆောင်ရွက်နေခဲ့ပြီး ၂၀၁၃ ခုနှစ်၊ ဇန်နဝါရီလအထိ တည်ဆောက်ရေးလုပ်ငန်းများ အကြမ်းထည်ဆောင်ရွက်ပြီးစီးနေပြီဖြစ်သဖြင့် လုပ်ငန်းလည်ပတ်ဆောင်ရွက်သော ကာလအတွက် ပြည့်စုံစွာ အသေးစိတ်ရေးဆွဲထားသည့် အခိုးအငွေ့ထုတ်လွှတ်မှုကန့်သတ်ချက်ပမာဏ၊ ပတ်ဝန်းကျင်အရည်အသွေး စံချိန်စံညွှန်း၊ စီမံကိန်းလုပ်ငန်းလည်ပတ်မှု၊ တပ်ဆင်ဆောင်ရွက်မှုနှင့် အခြေခံအဆောက်အအုံများတည်ဆောက်မှု၊ ဆိုးကျိုးသက်ရောက်မှုအပေါ် သုံးသပ်ဖော်ပြချက်၊ ဆိုးကျိုးသက်ရောက်မှုများအား လျော့ချရေးအတွက် လက်ရှိလုပ်ငန်းဆောင်ရွက်မှုနှင့် အချိန်ဇယားများ၊ စီမံကိန်းနှင့်သက်ဆိုင်သည့်မြေပုံများ၊ စီမံကိန်းလုပ်ငန်းခွင်အလိုက် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုနှင့် သင့်လျော်သည့်စောင့်ကြည့်စစ်ဆေးခြင်းဆိုင်ရာ အသေးစိတ်အစီအစဉ်များနှင့် အရေးပေါ်အစီအစဉ်တို့ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု အစီအစဉ်အား (Environmental Management Plan-EMP) ရေးဆွဲပြုစုတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(င) ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေပြဋ္ဌာန်းချက်များနှင့် ဆက်လက်ထုတ်ပြန်ပြဋ္ဌာန်းမည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး နည်းဥပဒေများ၊ ယင်းဥပဒေ၊ နည်းဥပဒေများအရ ထုတ်ပြန်သွားမည့် စံချိန်စံညွှန်းများ၊ စည်းမျဉ်းစည်းကမ်းများအား လိုက်နာဆောင်ရွက်သွားရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( မျိုး ဝင်း ၊ ရုံး အ ဖွဲ့ မှူး )

မိတ္တူ - ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
- ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

နောက်ဆက်တွဲ(ဂ)

Myanmar Investment Commission

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
## အဆိုပြုချက် စိစစ်ရေးအဖွဲ့

ဖက်(စ)၉၅-၆၇-၄၀၆၀၆၀
☎-၀၆၇-၄၀၆၁၃၉၊ ၄၀၆၃၆၂

စာအမှတ်၊ရက-၆(က)/မ- ၁၃၇၁/၂၀၁၃(၂၈၄၅ )
ရက်စွဲ ၊ ၂၀၁၃ ခုနှစ် နိုဝင်ဘာ လ ၁၈ ရက်

သို့

အုပ်ချုပ်မှုဒါရိုက်တာ
Family United Power Co., Ltd.

အကြောင်းအရာ။ Family United Power Co., Ltd.သည် နေပြည်တော်၊ ပုဗ္ဗသီရိမြို့နယ်၊ မင်္ဂလာဒီပရပ်ကွက်၊ ဦးပိုင်မြေကွက်အမှတ် PH-02တွင် ပုဗ္ဗသီရိ ရှော့ပင်းမော တည်ဆောက်၍ ဆိုင်ခန်းများ ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ

ရည်ညွှန်းချက် ။ Family United Power Co., Ltd.၏ (၁၀-၉-၂၀၁၃)ရက်စွဲပါတင်ပြစာ

၁။ Family United Power Co., Ltd.သည် နေပြည်တော်၊ ပုဗ္ဗသီရိမြို့နယ်၊ မင်္ဂလာဒီပရပ်ကွက်၊ ဦးပိုင်မြေကွက်အမှတ်PH-02ရှိ မြေ(၈.၃၂)ဧက ကျယ်ဝန်းသော မြေနေရာတွင် ပုဗ္ဗသီရိ ရှော့ပင်းမော တည်ဆောက်၍ ဆိုင်ခန်းများ ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရည်ညွှန်းပါစာဖြင့် ရင်းနှီးမြှုပ်နှံသူ ဦးအောင်တင်စိုး(အဘ-ဦးစိုးလွင်(ခ)တန်ကင်ချန်)မှ ရည်ညွှန်းပါစာဖြင့် အဆိုပြု တင်ပြလာခြင်းကို အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၂၄/၂၀၁၃) (၁၀-၁၀-၂၀၁၃) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ ယင်းအစည်းအဝေးမှ အောက်ပါအတိုင်းဆုံးဖြတ်ခဲ့ပါသည်-

(က) ဆောင်ရွက်ပြီးစီးနေသည့် တည်ဆောက်မှုအပိုင်း အခြေအနေအား ရာခိုင်နှုန်းဖြင့် ဖော်ပြပေးရန်၊

(ခ) Car Parking ၌ ကားစီးရေ မည်မျှထားရှိနိုင်မည်ကို ဖော်ပြပေးရန်၊

(ဂ) ရှော့ပင်းမော လုပ်ငန်းအတွက် ပြည်ပမှ တင်သွင်းရန် လိုအပ်သည့် တည်ဆောက်ရေး လုပ်ငန်းသုံးပစ္စည်းများအား ပြည်တွင်းမှသာ ဝယ်ယူရန်၊

၃။ သို့ဖြစ်ပါ၍ အထက်စာပိုဒ်(၂)ပါ အစည်းအဝေး ဆုံးဖြတ်ချက်နှင့်အညီ ပြင်ဆင်ပြီးပါက ပြန်လည် တင်ပြပေးပါရန် အကြောင်းကြားအပ်ပါသည်။

အဖွဲ့ခေါင်းဆောင်(ကိုယ်စား)
(ဆင့်ဆင့်သန်း၊ဒုတိယညွှန်ကြားရေးမှူး)

မိတ္တူ

ရုံးလက်ခံ/မျှောစာတွဲ